




# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ........၇၅၅................/၂၀၁၀ ။ ၂၀၁၀ ခုနှစ်၊ ဩဂုတ် လ ၅ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ........ ဦးဖိုးဇော်(ခ)ဦးဇော်ဇော်

(ခ) အဘ အမည် ........ ဦးယုစိန်

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ........ ၁၂ /ဗဟန(နိုင်) ၀၈၄၅၄၄

(ဃ) နေရပ်လိပ်စာ ........ အမှတ်(၁၉)၊ ကုက္ကိုင်းရိပ်သာလမ်း၊ ဗဟန်းမြို့နယ်၊ရန်ကုန်တိုင်း။

........................................

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့ အစည်း ........ မက်စ် (မြန်မာ) ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Max (Myanmar )Construction Co., Ltd. )

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ........ BOT စနစ်ဖြင့်လမ်းပြုပြင်ဖောက်လုပ်၍ လမ်းတံတားအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ........ ရန်ကုန်တိုင်းရှိအမှတ်(၂)လမ်းမကြီး၊အမှတ်(၃)လမ်းမကြီး၊ အမှတ်(၇)မြို့ပတ်လမ်းမကြီးနှင့်ထောက်ကြံ့မြို့ရှောင်လမ်းအပိုင်း(စုစုပေါင်း၃၇မိုင်၊၅ဖာလုံ)

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ........ ၉၁၇၅.၀၀(သန်း) (အမေရိကန်ဒေါ်လာ ၄.၇၆၅သန်း အပါအဝင် စုစုပေါင်းကျပ်သန်းကိုးထောင်၊တစ်ရာ၊ခုနစ်ဆယ့်ငါး)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၃ ၇ /၂၀၁၀ (မနသ)

နေပြည်တော်၊ ၁၃၇၂ ခုနှစ်၊ ဒုတိယဝါဆိုလပြည့်ကျော်၁၀ ရက်

(၂၀၁၀ ခုနှစ်၊ ဩဂုတ်လ ၅ ရက်)

၁။ မြန်မာကုမ္ပဏီ ဖြစ်သော မက်စ်(မြန်မာ) ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Max (Myanmar) Construction Co., Ltd.)မှ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းပိုင် ရန်ကုန်တိုင်းရှိ အမှတ်(၂) လမ်းမကြီး(မိုင်တိုင် ၁၆/၂ မှ ၃၁/၀ထိ)(၁၄ မိုင် ၆ ဖာလုံ )၊ အမှတ်(၃)လမ်းမကြီး(မိုင်တိုင် ၂/၇အနီး ၀/၀ မှ ခရေပင်လမ်းဆုံ ၉/၂ထိ) (၉ မိုင် ၂ ဖာလုံ )၊ အမှတ်(၇) မြို့ပတ် လမ်းမကြီး(မိုင်တိုင် ၀/၀ မှ ၁၂/၀ထိ) (၁၂ မိုင်)နှင့် ထောက်ကြံ့မြို့ရှောင်လမ်း (၁ မိုင် ၅½ဖာလုံ ) [စုစုပေါင်း ၃၇ မိုင်၊ ၅½ ဖာလုံ]တို့ကို B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့် အဆိုပြုချက်အား (၂၁-၅-၂၀၁၀) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင် ၏ (၁၇/၂၀၁၀) အစည်းအဝေး၌ တင်ပြ စိစစ်ခဲ့ပါသည်။ ကော်မရှင်မှ စိစစ်ခဲ့ပြီး (၂၃-၆-၂၀၁၀)နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ၏(၁၉/၂၀၁၀) အစည်းအဝေးသို့ ဆက်လက်တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက်အရ (၃၀-၇-၂၀၁၀) နေ့တွင် ကျင်းပ ပြုလုပ်သော ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏(၂၉/၂၀၁၀) အစည်းအဝေး သို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင် သည် မြန်မာနိုင်ငံသား များ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်း ထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် မက်စ်(မြန်မာ) ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Max (Myanmar) Construction Co., Ltd.)အား ရန်ကုန်တိုင်းရှိ အမှတ်(၂) လမ်းမကြီး၊ အမှတ်(၃) လမ်းမကြီး၊ အမှတ်(၇) မြို့ပတ် လမ်းမကြီးနှင့် ထောက်ကြံ့မြို့ရှောင်လမ်း တို့ တွင် BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၇၅၅/၂၀၁၀ ကို ထုတ်ပေး လိုက်သည်။

၂။ မက်စ်(မြန်မာ)ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Max (Myanmar) Construction Co., Ltd.)အနေဖြင့် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာ နိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ဝန်ဆောင်မှုလုပ်ငန်း စီးပွားဖြစ် စတင်သော နှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။ ဥပဒေပုဒ်မ ၁၃ မှ အောက် ဖော်ပြပါ အခွန် ကင်းလွတ် ခွင့် နှင့် သက်သာခွင့် များကို ခံစားခွင့် ပြုနိုင် ရန် ဤအမိန့် ကြော်ငြာစာ ကို ထုတ်ပြန်လိုက်သည် -

၈။ မက်စ်(မြန်မာ)ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Max (Myanmar) Construction Co., Ltd.)၏ ရန်ကုန်တိုင်းရှိ အမှတ်(၂) လမ်းမကြီး၊ အမှတ်(၃)လမ်းမကြီး၊ အမှတ်(၇) မြို့ပတ်လမ်းမကြီးနှင့် ထောက်ကြံ့မြို့ရှောင်လမ်း တို့အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း သက်တမ်းမှာနှစ်(၄၀)ဖြစ်သည်။လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (၃)နှစ်အထိ ဆောင်ရွက် ပြီးစီးသည့်နေ့ သို့မဟုတ် လုပ်ငန်း အပြီးသတ် ဆောင်ရွက် ပြီးစီးမှုလက်မှတ် ထုတ်ပေးသည့်နေ့ ထိုနှစ်ရပ် အနက် စောရာ နေ့ရက်ကာလမှ စတင် သတ်မှတ်ရမည် ။

၉။ လမ်း၊ တံတား အသုံးပြုခ ရငွေ အပေါ် ခွင့်ပြုကာလ အပိုင်းအခြား အလိုက် အောက်ပါ သတ်မှတ်ထားသည့် ရာခိုင်နှုန်းများ အတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည်။

| | | | |
|---|---|---|---|
| (က) | ပထမ (၃)နှစ် အတွက် | - | ကင်းလွတ်ခွင့်ကာလ |
| (ခ) | (၄)နှစ်မြောက်မှ(၁၃)နှစ်မြောက်အထိ (၁၀)နှစ် | - | ၅% ပေးသွင်းရန် |
| (ဂ) | (၁၄)နှစ်မြောက်မှ(၂၃)နှစ်မြောက်အထိ(၁၀)နှစ် | - | ၁၀% ပေးသွင်းရန် |
| (ဃ) | (၂၄)နှစ်မြောက်မှ(၃၃)နှစ်မြောက်အထိ(၁၀)နှစ် | - | ၁၅% ပေးသွင်းရန် |
| (င) | (၃၄)နှစ်မြောက်မှ(၄၀)နှစ်မြောက်အထိ(၇)နှစ် | - | ၂၀% ပေးသွင်းရန် |

၁၀။ လုပ်ငန်း လုပ်ကိုင် ခွင့်ပြုသည့်ကာလများ ပြီးဆုံးပါက အဆိုပါ လမ်းနှင့် တံတား များ၊ ဂိတ်များနှင့် အဆောက်အဦများကို ဆောက်လုပ် ပြီးစီးချိန်က ရှိနေသော ကောင်းမွန်သည့် အနေအထားအတိုင်း ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းသို့ အဖိုးစားနား တစ်စုံတစ်ရာ မပါရှိဘဲ လွှဲပြောင်း ပေးရမည်။

၁၁။ မက်စ်(မြန်မာ)ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Max (Myanmar) Construction Co., Ltd.)မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၂။ မက်စ်(မြန်မာ)ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Max (Myanmar) Construction Co., Ltd.)သည် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေ ကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၃။ မက်စ်(မြန်မာ)ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Max (Myanmar) Construction Co., Ltd.)သည် ပူးတွဲပါ ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤ ခွင့်ပြုမိန့် ရရှိပြီး

(သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည် ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လ တစ်ကြိမ် (ဧပြီ / အောက်တိုဘာ လများ) မပျက်မကွက် ပုံမှန်ပေးပို့အစီရင်ခံရမည်။

၁၄။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပမာဏ၊ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် လမ်းအရှည်မိုင် နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင် သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၅။ မက်စ်(မြန်မာ)ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Max (Myanmar) Construction Co., Ltd.)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် နှင့် သက်ဆိုင်ရာဝန်ကြီး ဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့် ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၁၆။ မက်စ်(မြန်မာ)ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Max (Myanmar) Construction Co., Ltd.)သည် အဆိုပြုလမ်း အပိုင်း တရားဝင် ဖွင့်လှစ်သည့် နေ့ရက် နှင့် စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက် တို့ကို ဤကော်မရှင် သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၇။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာ က စစ်ဆေးတွေ့ရှိလျှင် လုပ်ငန်း ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူ သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက်စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

(မောင်မောင်သိမ်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရကာ- ၆(က) /မ-၁၀၇၀/၂၀၁၀( ၁၁၄၀၆ )

ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ဩဂုတ် လ ၅ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။

၂။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ရုံး။

၃။ အစိုးရ အဖွဲ့ရုံး။

၄။ ရန်ကုန်တိုင်း အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီရုံး ၊ ရန်ကုန်မြို့။

၅။ စာရင်းစစ်ချုပ်ရုံး။

၆။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ။

၇။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၈။ အလုပ်သမား ဝန်ကြီးဌာန။

၉။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၁၀။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန။

၁၂။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။

၁၃။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။

၁၄။ ပြည်ထဲရေးဝန်ကြီးဌာန။

၁၅။ ဥက္ကဋ္ဌ၊နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့။(ပို့ဆောင်ရေး ဝန်ကြီးဌာန)

၁၆။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။

၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။

၂၁။ ဦးဆောင်ညွှန်ကြားရေးမှူး၊ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း။

၂၂။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၃။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၆။ အုပ်ချုပ်မှုဒါရိုက်တာ၊မက်စ်(မြန်မာ)ဆောက်လုပ်ရေးကုမ္ပဏီ လီမိတက်(Max (Myanmar) Construction Co., Ltd.)

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

M-1171
41 8

ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ ဩဂုတ် လ ၄ ရက်၊

အကြောင်းအရာ။ ။ မက်စ်(မြန်မာ) ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Max (Myanmar) Construction Co., Ltd.) မှ ရန်ကုန်တိုင်းရှိ အမှတ်(၂) လမ်းမကြီး၊ အမှတ်(၃)လမ်းမကြီး၊ အမှတ်(၇) မြို့ပတ် လမ်းမကြီးနှင့် ထောက်ကြံ့မြို့ရှောင်လမ်း အပိုင်း တို့ကို B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီ ဖြစ်သော မက်စ်(မြန်မာ) ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Max (Myanmar) Construction Co., Ltd.) မှ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းပိုင် ရန်ကုန်တိုင်းရှိ အမှတ်(၂) လမ်းမကြီး (မိုင်တိုင် ၁၆/၂ မှ ၃၁/၀ထိ)(၁၄ မိုင် ၆ ဖာလုံ )၊ အမှတ်(၃)လမ်းမကြီး (မိုင်တိုင် ၂/၇ အနီး ၀/၀မှ ခရေပင်လမ်းဆုံ ၉/၂ထိ) (၉ မိုင် ၂ ဖာလုံ )၊ အမှတ်(၇) မြို့ပတ် လမ်းမကြီး(မိုင်တိုင် ၀/၀ မှ ၁၂/၀ထိ) (၁၂ မိုင်)နှင့် ထောက်ကြံ့မြို့ရှောင်လမ်း (၁ မိုင် ၅½ဖာလုံ ) [စုစုပေါင်း ၃၇ မိုင်၊ ၅½ ဖာလုံ]တို့ကို B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့် အဆိုပြုချက်အား (၂၁-၅-၂၀၁၀) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင် ၏ (၁၇/၂၀၁၀) အစည်းအဝေး၌ တင်ပြ စိစစ်ခဲ့ပါသည်။

၂။ ကော်မရှင်မှ စိစစ်ခဲ့ပြီး (၂၃-၆-၂၀၁၀)နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ၏(၁၉/၂၀၁၀) အစည်းအဝေးသို့ ဆက်လက်တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက်အရ(၃၀-၇-၂၀၁၀)နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စု မြန်မာ နိုင်ငံတော် အစိုးရအဖွဲ့၏ (၂၉/၂၀၁၀) အစည်းအဝေး သို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ နှင့် ယင်းဥပဒေ ဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၄) ၊ အပိုဒ် ၁၂ တို့နှင့်အညီ မက်စ်(မြန်မာ) ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Max (Myanmar) Construction Co., Ltd.) အား ရန်ကုန်တိုင်းရှိ အမှတ်(၂)လမ်းမကြီး၊ အမှတ်(၃)လမ်းမကြီး၊ အမှတ်(၇) မြို့ပတ် လမ်းမကြီးနှင့်

၂/သို့

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

၂

ထောက်ကြံ့မြို့ရှောင်လမ်း ကို B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ရန် ထုတ်ပေးမည့် ခွင့်ပြုမိန့် နှင့် အမိန့်ကြော်ငြာစာတွင် လက်မှတ် ရေးထိုးပေးနိုင်ပါရန် ပြုစု တင်ပြ အပ်ပါသည်။

(သူရိန်ဇော်၊ အတွင်းရေးမှူး)

ဥက္ကဋ္ဌ

Max Permit Ns

ထိပ်တန်းလျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
အစိုးရအဖွဲ့

စာအမှတ်၊ ၅၃ / ၁၄၈ /အဖရ (၂၉/ ၂၀၁၀ )။
ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ ဩဂုတ်လ ၅ ရက်။

1.1204
1018

# အ မှာ စာ

အကြောင်းအရာ။ ရန်ကုန်တိုင်းရှိ အမှတ်(၂) လမ်းမကြီး၊ အမှတ်(၃) လမ်းမကြီး၊ အမှတ် (၇) မြို့ပတ်လမ်းမကြီး နှင့် ထောက်ကြံ့မြို့ရှောင်လမ်းအပိုင်း [မက်စ် (မြန်မာ) ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် ] ၊ မန္တလေး-ဖော့တော-သပိတ်ကျင်း-လက်ပံလှ-စဉ့်ကူးလမ်းအပိုင်းနှင့် မုံရွာ-ရေဦး လမ်းအပိုင်း (ဆုထူးပန် ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်) တို့အား B.O.Tစနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတားအသုံးပြုခကောက်ခံခြင်းလုပ်ငန်းဆောင်ရွက်ရန်ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြု ချက်များ တင်ပြလာခြင်း ကိစ္စ။

၁။ ၂၀၁၀ ခုနှစ်၊ ဇူလိုင်လ ၃၀ ရက် ( သောကြာ )နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂၉/၂၀၁၀) မှတ်တမ်းကောက်နုတ်ချက်ကို ဆောင်ရွက်နိုင်ပါရန် ပေးပို့အပ်ပါသည်။

၂။ မှတ်တမ်းကောက်နုတ်ချက်ကို ရရှိကြောင်း ပြန်ကြားရန်နှင့် ဌာနဆိုင်ရာ အရေးယူဆောင်ရွက်ချက်ကိုလည်း ပြန်လည်အစီရင်ခံတင်ပြရန် ဖြစ်ပါသည်။

အတွင်းရေးမှူး( ကိုယ်စား )
(အောင်လွင်ဦး)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

၅၃။ ရန်ကုန်တိုင်းရှိ အမှတ်(၂) လမ်းမကြီး၊ အမှတ်(၃) လမ်းမကြီး၊ အမှတ် (၇) မြို့ပတ်လမ်းမကြီး နှင့် ထောက်ကြံ့မြို့ရှောင်လမ်းအပိုင်း [မက်စ် (မြန်မာ) ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် ] ၊ မန္တလေး-ဖော့တော-သပိတ်ကျင်း-လက်ပံလှ-စဉ့်ကူးလမ်းအပိုင်းနှင့် မုံရွာ-ရေဦး လမ်းအပိုင်း (ဆုထူးပန် ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်) တို့အား B.O.Tစနစ်ဖြင့် ပြုပြင် ဖောက် လုပ်၍ လမ်း၊ တံတားအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြု ချက်များ တင်ပြလာခြင်း ကိစ္စ။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၀ ခုနှစ်၊ဇူလိုင်လ ၂၃ ရက် နေ့စွဲပါ အမှာစာအမှတ်၊ ရက-၆(ခ)/မ-လမ်း/၂၀၁၀(၁၀၇၄၄)။ အမှာစာကို သဘောတူကြသည်။

ဆောင်ရွက်ရန်၊
ရင်းနှီးမြှုပ်နှံမှု။

ထိပ်တန်းလျှို့ဝှက်

27-10 yellow

# ပြည်ထောင်စုမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက- ၆(၁) /မ- လမ်း/၂၀၁၀ (၁၀၅၄၄)၊
ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ ဇူလိုင် လ ၂၃ ရက်။

**ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ ။ရန်ကုန်တိုင်းရှိ အမှတ်(၂) လမ်းမကြီး၊ အမှတ်(၃) လမ်းမကြီး၊ အမှတ်(၇) မြို့ပတ်လမ်းမကြီး နှင့် ထောက်ကြံ့မြို့ဟောင်းလမ်းအပိုင်း [မက်စ် (မြန်မာ) ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် ]၊ မန္တလေး-ဖော့တော-သပိတ်ကျင်း-လက်ပံလှ-စဥ့်ကူးလမ်းအပိုင်း နှင့် မုံရွာ-ရေဦး လမ်းအပိုင်း (ဆုထူးပန် ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်) တို့အား B.O.Tစနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက်များ တင်ပြလာခြင်း ကိစ္စ။

၁။ အောက်ပါလမ်းအပိုင်း(၃)ပိုင်းအား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခကောက်ခံခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ကော်မရှင် ခွင့်ပြုမိန့်ရရှိရေးအတွက် ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက်များ တင်ပြခဲ့ပါသည်။

| စဥ် | လုပ်ငန်းတည်နေရာ | လမ်းအရှည် မိုင် | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု (ကျပ်သန်း) | ဆောင်ရွက် သည့် ကုမ္ပဏီ |
|---|---|---|---|---|
| ၁။ | ရန်ကုန်တိုင်းရှိ အမှတ် (၂) လမ်းမကြီး၊ အမှတ်(၃) လမ်းမကြီး၊ အမှတ်(၇)မြို့ပတ်လမ်းမကြီးနှင့် ထောက်ကြံ့မြို့ဟောင်းလမ်း အပိုင်း | ၃၇ မိုင်၊ ၅ ၁/၂ ဖာလုံ | ၉၁၇၅.၀၀ (US$ ၄.၇၇သန်း အပါအဝင်) | မက်စ်(မြန်မာ) ဆောက်လုပ်ရေးကုမ္ပဏီ လီမိတက် |
| ၂။ | မန္တလေး-ဖော့တော-သပိတ်ကျင်း-လက်ပံလှ-စဥ့်ကူးလမ်းအပိုင်း | ၄၇ မိုင်၊ ၄ ဖာလုံ | ၃၄၀၀.၀၀ (US$ ၄.၇၈သန်း အပါအဝင်) | ဆုထူးပန် ဆောက်လုပ်ရေးကုမ္ပဏီ လီမိတက် |
| ၃။ | မုံရွာ-ရေဦး လမ်းအပိုင်း | ၅၄ မိုင် | ၇၄၉၉.၈၀ (US$ ၄.၅၆သန်း အပါအဝင်) | |

၂။ ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၁၉/၂၀၁၀)(၂၃-၆-၂၀၁၀)အစည်းအဝေးမှ မက်စ်(မြန်မာ)ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှ ဆောင်ရွက်သော လမ်းအပိုင်းနှင့်(၂၀/၂၀၁၀)(၃၀-၆-၂၀၁၀) အစည်းအဝေးမှ ဆုထူးပန် ဆောက်လုပ် ရေးကုမ္ပဏီ လီမိတက်မှ ဆောင်ရွက်သော လမ်းအပိုင်း (၂)ခု တို့အား B.O.Tစနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ နောက်ဆက်တွဲ(က) နှင့် (ခ)

၃။ ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးများမှ သဘောတူသဖြင့် အဆိုပါ လမ်းအပိုင်း (၃)ခု၏ လုပ်ငန်း အဆိုပြုလွှာများအား အစိုးရအဖွဲ့အစည်းအဝေးသို့ ဆက်လက်တင်ပြပေးပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တင်ပြလာပါသဖြင့် ဆက်လက်တင်ပြခြင်းဖြစ်ပါသည်။

၄။ အဆိုပြု လမ်းအပိုင်းများရှိ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ တည်ဆောက်ထားသည့် (၁၈၀)ပေ အထက်တံတားများအတွက် တံတားအသုံးပြုခကောက်ခံမှုများကို ကုမ္ပဏီများသို့ လေလံစနစ်ဖြင့် ဆောင်ရွက်စေပြီး၊ သာမန်တံတားနှုန်းဖြင့် ကောက်ခံပါသည်။ လမ်းအပိုင်းအလိုက်(၁၈၀)ပေ အထက် တံတားကြီးများ တည်ဆောက်မှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။ တံတားအသုံးပြုခ ကောက်ခံနှုန်းများကို နောက်ဆက်တွဲ(ဂ) ဖြင့် တင်ပြအပ်ပါသည်။

အဆိုပြုလမ်းအပိုင်းများပေါ်ရှိ(၁၈၀)ပေအထက်တံတားကြီးများ အသုံးပြုခကောက်ခံမှု

| စဉ် | လမ်းအပိုင်း | ဌာနမှတည်ဆောက်ထားသည့် တံတား (လေလံစနစ်ဖြင့် ဆောင်ရွက်ခြင်း) | ကုမ္ပဏီမှ တည်ဆောက်ထားသည့် တံတား (ကုမ္ပဏီမှကောက်ခံခြင်း) | မှတ်ချက် |
|---|---|---|---|---|
| ၁။ | အမှတ် (၂) လမ်းမကြီး၊ အမှတ်(၃) လမ်းမကြီး၊ အမှတ်(၇)မြို့ပတ် လမ်းမကြီး နှင့်ထောက်ကြံ့မြို့ရှောင် လမ်းအပိုင်း (၃၇ မိုင်၊ ၅ ၃/၂ ဖာလုံ) | - | - | မရှိပါ။ |
| ၂။ | မန္တလေး-ဖော့တော-သပိတ်ကျင်း- လက်ပံလှ-စဥ့်ကူးလမ်းအပိုင်း (၄၇ မိုင်၊ ၄ ဖာလုံ) | လက်ပံလှတံတား (၂၄၀') တံငါတံတား (၂၄၀') | - | သာမန်တံတားနှုန်း သာမန်တံတားနှုန်း |
| ၃။ | မုံရွာ-ရေဦး လမ်းအပိုင်း (၅၄ မိုင်) | - | - | မရှိပါ။ |

၅။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းနှင့် ကုမ္ပဏီတို့ ချုပ်ဆိုမည့် ပဋိညာဉ်စာချုပ်(မူကြမ်း)ပါ အဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ(တည်ဆောက်ရေး ကာလ)မှာ (၃)နှစ်ဖြစ် ပါသည်။

(ခ) လုပ်ငန်း သက်တမ်း ကာလမှာ နှစ်(၄၀) ဖြစ်ပြီး နှစ်ဖက်သဘောတူပါက တစ်ကြိမ်လျှင် (၅)နှစ်စီ ဖြင့် (၃)ကြိမ် တိုးမြှင့်နိုင်သည်။ လုပ်ငန်းသက်တမ်းကာလ ကို လမ်းဖောက်လုပ်သည့်လုပ်ငန်း ကာလ (၃)နှစ် အထိ ဆောင်ရွက်ပြီးစီးသည့် နေ့ (သို့မဟုတ်) လုပ်ငန်း အပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ်ထုတ်ပေး သည့်နေ့၊ ထိုနှစ်ရပ်အနက်စောရာ နေ့ရက်ကာလမှ စတင်သတ်မှတ်မည် ဖြစ်ပါသည်။

(ဂ) အဆိုပြုကုမ္ပဏီများမှ အောက်ပါလမ်းအသုံးပြုခ နှုန်းထားများအတိုင်း ကောက်ခံမည် ဖြစ်ပါသည်။

| | ယာဉ်အမျိုးအစား | လမ်းအသုံးပြုခနှုန်း တစ်မိုင်နှုန်း |
|---|---|---|
| ၁။ | (၁)တန်အောက် ယာဉ်ငယ်များ | ၄ ကျပ် ၁၃ ပြား |
| ၂။ | (၁)တန်မှ (၃)တန်အထိ ယာဉ်များ | ၁၂ ကျပ် ၃၉ ပြား |
| ၃။ | (၅)တန်အောက် ကားကြီးများ | ၂၀ ကျပ် ၆၅ ပြား |
| ၄။ | (၁၀)တန်အောက် ကုန်တင်ယာဉ်ကြီးများ | ၄၁ ကျပ် ၃၀ ပြား |
| ၅။ | (၂၀)တန်အထိ ကုန်တင်ယာဉ်ကြီးများ | ၈၂ ကျပ် ၅၉ ပြား |
| ၆။ | (၂၀)တန်အထက် တန်ပို(၁)တန်လျှင် | ၈ ကျပ် ၂၆ ပြား |

(ဃ) တံတားအသုံးပြုခများကို ပေ(၁၈၀)နှင့် အထက် ရှည်သည့် တံတားများအတွက် နိုင်ငံတော်မှ တည်ဆောက်ထားသော တံတားများအား လေလံစနစ်ဖြင့် ကောက်ခံမည်ဖြစ်ပါသည်။

(င) လမ်း၊ တံတားအသုံးပြုခ ရငွေအပေါ် ခွင့်ပြုကာလ အပိုင်းအခြား အလိုက် အောက်ပါ သတ်မှတ်ထားသည့် ရာခိုင်နှုန်းများအတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည် ဖြစ်ပါသည်။

(၁) ပဏမ (၃)နှစ်အတွက် --------ကင်းလွတ်ခွင့်ကာလ

(၂) (၄)နှစ်မြောက်မှ(၁၃)နှစ်မြောက်အထိ (၁၀)နှစ် --------၅% ပေးသွင်းရန်

(၃) (၁၄) နှစ်မြောက် မှ (၂၃) နှစ်မြောက် အထိ (၁၀)နှစ် --------၁၀% ပေးသွင်းရန်

(၄) (၂၄) နှစ်မြောက်မှ (၃၃) နှစ်မြောက် အထိ (၁၀)နှစ် --------၁၅% ပေးသွင်းရန်

(၅) (၃၄) နှစ်မြောက် မှ (၄၀) နှစ်မြောက် အထိ --------၂၀% ပေးသွင်းရန် (၇)နှစ်

* B.O.T နှစ် လေးဆယ် ပြည့်ပြီးနောက် သက်တမ်းတိုးခွင့် ရရှိပါက နိုင်ငံတော်မှ သတ်မှတ် ပေးသည့် ရာခိုင်နှုန်းအတိုင်း ပေးသွင်းရမည် ဖြစ်ပါသည်။

(စ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ဘဏ်အာမခံကြေးငွေအဖြစ် စာချုပ်ချုပ်ဆိုပြီး (၃၀)ရက်အတွင်း ရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ်၏ (၁)ရာခိုင်နှုန်းနှင့် ညီမျှသော ငွေကို ထားရှိပေးရမည်။ယင်းသက်တမ်းသည် စတင်ထုတ်ပေးသည့် နေ့မှလုပ်ငန်း ပြီးဆုံးအောင် ဆောင်ရွက်သည့်အထိ ဖြစ်ပါသည်။ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် လုပ်ငန်းစတင်ရန် အကြောင်းကြားစာရပြီး ရက်(၃၀)အတွင်း လုပ်ငန်းစတင်ရန် ပျက်ကွက်လျှင် သော်လည်းကောင်း၊ သတ်မှတ်ကာလ အတွင်းလုပ်ငန်းကို ပြီးစီး အောင်ဆောင်ရွက်ရန် အပါအဝင် စာချုပ်ပါ စည်းကမ်းချက်များကို လိုက်နာရန် ပျက်ကွက်ပါက ဘဏ်အာမခံငွေကို ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ သိမ်းယူ ရမည်ဖြစ်ပါသည်။ဘဏ်အာမခံငွေကို လုပ်ငန်းအပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ်ထုတ်ပေးပြီး ရက်ပေါင်း(၃၀)အတွင်း လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသို့ ပြန်လည် ထုတ်ပေးရမည်။

(ဆ) အဆိုပြုကုမ္ပဏီများသည် လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်ခံ လုပ်ကိုင်ခွင့်မပြုရပါ။

(ဇ) လုပ်ငန်းစတင်သည့်နေ့သည် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ(ဌာန)မှ လုပ်ငန်းစတင်ရန် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ (ကုမ္ပဏီ)သို့ အကြောင်းကြားသည့်နေ့ဖြစ်သည်။

(ဈ) လုပ်ငန်း လုပ်ကိုင်ခွင့် ပြုသည့် ကာလ နှစ် (၄၀) သို့မဟုတ် နောက်ထပ် တိုးမြှင့် ကာလများ ပြီးဆုံးပါက အဆိုပါလမ်းနှင့် တံတားများ၊ ဂိတ်များနှင့် အဆောက်အဦ များကို ဆောက်လုပ်ပြီးစီးချိန်က ရှိနေသော ကောင်းမွန်သည့်အနေအထားအတိုင်း ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းသို့ အဖိုးစားနား တစ်စုံတစ်ရာမရှိဘဲ လွှဲပြောင်း ပေးရမည် ဖြစ်ပါသည်။

၆။ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ လမ်းအပိုင်းအလိုက် လမ်းဖောက်လုပ်သည့် လုပ်ငန်း စတင်ဆောင်ရွက် ခွင့်ပြုသည့် နေ့ရက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| **စဉ်** | **ကုမ္ပဏီအမည်** | **လမ်းအပိုင်း** | **လုပ်ငန်းစတင် ဆောင်ရွက်ခွင့်ပြု သည့်နေ့** |
|---|---|---|---|
| ၁။ | မက်စ်(မြန်မာ)ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | အမှတ်(၂)လမ်းမကြီး၊ အမှတ်(၃) လမ်းမကြီး၊ အမှတ် (၇) မြို့ပတ် လမ်းမကြီးနှင့်ထောက်ကြံ့မြို့ရှောင် လမ်း အပိုင်း | - |
| ၂။ | ဆုထူးပန် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | မန္တလေး-ဖော့တော-သပိတ်ကျင်း-လက်ပံလှ-စဉ့်ကူးလမ်းအပိုင်း | ၁-၁၂-၂၀၀၉ |

| စဉ် | ကုမ္ပဏီအမည် | လမ်းအပိုင်း | လုပ်ငန်းစတင်ဆောင်ရွက်ခွင့်ပြုသည့်နေ့ |
|---|---|---|---|
| ၃။ | ဆုထူးပန် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | မုံရွာ-ရေဦး လမ်းအပိုင်း | ၁-၁၂-၂၀၀၉ |

၇။ အဆိုပြုလမ်းအပိုင်း(၃)ပိုင်းအား ကုမ္ပဏီ(၂)ခုတို့မှ B.O.Tစနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခကောက်ခံခြင်းနှင့် စပ်လျဉ်းသည့် စီးပွားရေးဆိုင်ရာ အသေးစိတ် အချက်အလက်များကို နောက်ဆက်တွဲ(ဃ) မှ (စ) အထိလည်းကောင်း၊ လုပ်ငန်း အဆိုပြုချက်များကို နောက်ဆက်တွဲ(ဆ)မှ(ဈ) အထိလည်းကောင်း ပူးတွဲတင်ပြအပ်ပါသည်။

၈။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကိုလည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကိုလည်းကောင်း ခံစားခွင့်ပြုရပါမည်။

ဆုံးဖြတ်ရန်အချက်

၉။ ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့် တင်ပြလာသည့် အောက်ပါ လမ်းအပိုင်း (၃)ပိုင်းအား B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခကောက်ခံခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ - မတူ။

(က) ရန်ကုန်တိုင်းရှိအမှတ်(၂)လမ်းမကြီး၊ အမှတ် (၃)လမ်းမကြီး၊ အမှတ်(၇) မြို့ပတ် လမ်းမကြီး နှင့် ထောက်ကြံ့ မြို့ရှောင်လမ်း အပိုင်း [ ၃၇ မိုင်၊ ၅ ဖာလုံ ] - မက်စ်(မြန်မာ)ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက်

(ခ) မန္တလေး-ဖော့တော-သပိတ်ကျင်း-လက်ပံလှ-စဥ့်ကူးလမ်းအပိုင်း [ ၄၇ မိုင်၊ ၄ ဖာလုံ ] - ဆုထူးပန်ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက်

(ဂ) မုံရွာ-ရေဦး လမ်းအပိုင်း [ ၅၄ မိုင် ] - ဆုထူးပန် ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ထောက်ခံချက်။

၁၀။ အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

(မောင်မောင်သိမ်း)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ဝန်ကြီး၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့

နောက်ဆက်တွဲ(က)

၃



ပြည်ထောင်စုမြန်မာနိုင်ငံတော်

**ကုန်သွယ်မှုမူဝါဒကောင်စီ**

၂၀၁၀ ခုနှစ်၊ ဇွန်လ(၂၃)ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒ ကောင်စီ အစည်းအဝေးအမှတ်စဉ် (၁၉/၂၀၁၀) မှတ်တမ်းကောက်နုတ်ချက်။

| အစည်းအဝေးအစီအစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၁၆-ခ | ၃၉၄ | မက်စ်(မြန်မာ) ဆောက်လုပ်ရေးကုမ္ပဏီလီမိတက် (Max (Myanmar) Construction Co., Ltd.) မှ ရန်ကုန်တိုင်းရှိ အမှတ်(၂)လမ်းမကြီး၊ အမှတ်(၃)လမ်းမကြီး၊ အမှတ်(၇) မြို့ပတ်လမ်းမကြီးနှင့် ထောက်ကြံ့မြို့ရှောင်လမ်းတို့ ကို B.O.T စနစ်ဖြင့်ပြုပြင်ဖောက်လုပ်၍ လမ်းအသုံးပြုခကောက်ခံခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုကြောင်း ဆုံးဖြတ်ပါသည်။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။ ဆောက်လုပ်ရေးဝန်ကြီးဌာန။ |





နောက်ဆက်တွဲ(ခ)

ပြည်ထောင်စုမြန်မာနိုင်ငံတော်

**ကုန်သွယ်မှုမူဝါဒကောင်စီ**

၂၀၁၀ ခုနှစ်၊ ဇွန်လ(၃၀)ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးအမှတ်စဉ် (၂၀/၂၀၁၀) မှတ်တမ်းကောက်နုတ်ချက်။

| အစည်းအဝေး အစီအစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၁၅ | ၈၄၁ | ဆုထူးပန် ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှ အောက်ဖော်ပြပါ လမ်းအပိုင်း (၂)ပိုင်းအား B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခကောက်ခံခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုကြောင်း ဆုံးဖြတ်ပါသည်။<br>(က)မန္တလေး -ဖော့တော -သပိတ်ကျင်း- ၇၇ မိုင် ၄ ဖာလုံ လက်ပံလှ-စဉ့်ကူး လမ်းအပိုင်း<br>(ခ) မုံရွာ-ရေဦး လမ်းအပိုင်း ၅၄ မိုင် | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊<br>ဆောက်လုပ်ရေးဝန်ကြီးဌာန။ |



နောက်ဆက်တွဲ(ဂ)

# ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၏ တံတားအသုံးပြုခနှုန်းထား
## (သာမန်တံတား)

| | | | |
|---|---|---|---|
| (က) | ဆိုင်ကယ်၊ မြင်းလှည်း၊ ထော်လာဂျီ | ၅ | ကျပ် |
| (ခ) | (၂)တန်အောက်ယာဉ်၊ အခြားယာဉ်များ၊ ကိုယ်ပိုင်ယာဉ်ငယ်များ | ၃၀ | ကျပ် |
| (ဂ) | ဟိုင်းလတ်ခရီးသယ်တင်ယာဉ် | ၄၀ | ကျပ် |
| (ဃ) | (၂)တန်အောက်ခရီးသယ်တင်ယာဉ် | ၄၀ | ကျပ် |
| (င) | (၂)တန်မှ (၅)တန်အောက်ယာဉ် | ၆၀ | ကျပ် |
| (စ) | (၅)တန်နှင့်အထက်ခရီးသယ်တင်ယာဉ် | ၁၀၀ | ကျပ် |
| (ဆ) | (၅)တန်နှင့်အထက်ယာဉ်ကြီး | ၁၅၀ | ကျပ် |
| (ဇ) | ထရပ်ကား (၂၀) တန် အထိ | ၁၅၀ | ကျပ် |

နောက်ဆက်တွဲ(ဃ)

**ရန်ကုန်တိုင်းရှိ အမှတ်(၂)လမ်းမကြီး၊ အမှတ် (၃)လမ်းမကြီး၊ အမှတ်(၇) မြို့ပတ် လမ်းမကြီး နှင့် ထောက်ကြံ့ မြို့ရှောင်လမ်း အပိုင်း(မက်စ်(မြန်မာ)ဆောက်လုပ်ရေးကုမ္ပဏီ လီမိတက်) အား B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် နှင့် စပ်လျဉ်းသည့်အဓိကအချက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - မက်စ်(မြန်မာ)ဆောက်လုပ်ရေးကုမ္ပဏီ လီမိတက် (ကုမ္ပဏီ မှတ်ပုံတင်အမှတ်၊ ၉၅၈/၂၀၀၅-၂၀၀၆) (၁၁-၈-၂၀၀၅) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးဖိုးဇော်(ခ)ဦးဇော်ဇော် (အုပ်ချုပ်မှုဒါရိုက်တာ) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - ရန်ကုန်တိုင်းရှိအမှတ်(၂)လမ်းမကြီး၊ အမှတ် (၃) လမ်း မကြီး၊ အမှတ်(၇) မြို့ပတ် လမ်းမကြီး နှင့် ထောက်ကြံ့ မြို့ရှောင်လမ်း အပိုင်းတို့ကို B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခကောက်ခံခြင်း လုပ်ငန်း။ |
| ၄။ | လုပ်ငန်းတည်နေရာ(လမ်းအရှည်မိုင်) | |
| | - ရန်ကုန်တိုင်းရှိအမှတ်(၂)လမ်းမကြီး (မိုင်တိုင် ၁၆/၂ မှ ၃၁/၀ ထိ) | - ၁၄ မိုင် ၆ ဖာလုံ |
| | - အမှတ် (၃)လမ်းမကြီး၊ (မိုင်တိုင် ၂/၇ အနီး ၀/၀ မှ ခရေပင် လမ်းဆုံ ၉/၂ ထိ) | - ၉ မိုင် ၂ ဖာလုံ |
| | - အမှတ်(၇) မြို့ပတ် လမ်းမကြီး (မိုင်တိုင် ၀/၀ မှ ၁၂/၀ ထိ) | - ၁၂ မိုင် ၀ ဖာလုံ |
| | - ထောက်ကြံ့ မြို့ရှောင်လမ်း အပိုင်း | - ၁ မိုင် ၅½ ဖာလုံ |
| | စုစုပေါင်း | ၃၇ မိုင် ၅½ ဖာလုံ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၉၁၇၅.၀၀ သန်း ( US$ ၄.၇၇ သန်း |
| | - ငွေပမာဏ (လမ်းဟောင်းပြုပြင်ခြင်းနှင့်အဆင့်တိုးမြှင့်ဖောက်လုပ်ခြင်း) | ၉၀၆၆.၄၁ အပါအဝင်) |
| | - လုပ်ငန်းသုံးစက်၊ ယာဉ်၊ ယန္တရားများ | ၂၈.၅၉ ( US$ ၄.၇၇ သန်း) |
| | - အဆောက်အဦများ | ၇၅.၀၀ |
| | - ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ | ၅.၀၀ |



Max Cab

| | | |
|---|---|---|
| ၆။ | လမ်းအသုံးပြုခကောက်ခံမည့်ဂိတ်တည်နေရာ | - အသွားအပြန်ခရီးအတွက်<br>အမှတ်(၂)လမ်းမကြီး မိုင်တိုင်အမှတ် ၂၉/၄<br>အမှတ်(၃)လမ်းမကြီး မိုင်တိုင်အမှတ် ၆/၄<br>အမှတ်(၇) မြို့ပတ်လမ်းမကြီး မိုင်တိုင်အမှတ် ၁/၂<br>ထောက်ကြံ့မြို့ရှောင်လမ်း မိုင်တိုင်အမှတ် ၀/၂ |
| ၇။ | ဝင်ငွေ<br>(တည်ဆောက်ရေးကာလပြီးလုပ်ငန်းသက်တမ်း(၇)နှစ်မြောက်ဝင်ငွေအား ကောက်နုတ်တင်ပြထားခြင်းဖြစ်ပါသည်) | ကျပ် ၉၈၉.၃၆ သန်း |
| ၈။ | အသားတင်အမြတ်(၇ နှစ်မြောက်) | ကျပ် ၃၄၉.၀၆ သန်း |
| ၉။ | အရင်းကြေကာလ | - (၂၆) နှစ် နှင့် (၆)လ |
| ၁၀။ | အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း(IRR) | - ၁.၅၆ % |
| ၁၁။ | နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ်<br>- ဝင်ငွေခွန်<br>- ကုန်သွယ်လုပ်ငန်းခွန် | <br>- ကျပ် ၁၄၉.၆၀ သန်း<br>- ကျပ် ၄၉.၄၇ သန်း |
| ၁၂။ | လုပ်သားအင်အား(ပြည်တွင်း) | - တည်ဆောက်ရေးကာလ ၂၅၀ ဦး<br>- လုပ်ငန်းဆောင်ရွက်မှုကာလ ၇၅ ဦး |
| ၁၃။ | စက်ပစ္စည်းဝယ်ယူမှုနှင့်ငွေကြေး ခိုင်မာမှု အထောက်အထား | - လုပ်ငန်းအတွက် စက်၊ ယာဉ်၊ ယန္တရားများကို ပြည်ပမှတင်သွင်းရန် ကုမ္ပဏီအမည်ဖြင့် မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်တွင် (၁၆-၂-၂၀၁၀) နေ့ ငွေလက်ကျန် အမေရိကန်ဒေါ်လာ (၀.၄၂) သိန်း ရှိကြောင်း တင်ပြထားပါသည်။ |



Max Cab

နောက်ဆက်တွဲ(င)

**မန္တလေး - ဖော့တော -သပိတ်ကျင်း - လက်ပံလှ - စဥ့်ကူးလမ်းအပိုင်း ( ဆုထူးပန် ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက်) အား B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်နှင့် စပ်လျဥ်းသည့် အဓိကအချက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - ဆုထူးပန် ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက်<br>(ကုမ္ပဏီမှတ်ပုံတင်အမှတ်၊ ၁၀၅၇/ ၂၀၀၈ - ၂၀၀၉)<br>(၁၉-၁၁-၂၀၀၈) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးကျော်ဌေး (အုပ်ချုပ်မှုဒါရိုက်တာ) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - မန္တလေး - ဖော့တော -သပိတ်ကျင်း - လက်ပံလှ - စဥ့်ကူး လမ်းအပိုင်း အား B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ။ |
| ၄။ | လုပ်ငန်းတည်နေရာ<br>(လမ်းအရှည်မိုင်)<br>- မန္တလေး - ဖော့တောအပိုင်း<br>မိုင်တိုင် ( ၄၅/၃ မှ ၇၆/၄ ထိ )<br>- ဖော့တော- သပိတ်ကျင်း အပိုင်း<br>မိုင်တိုင် (၀/၀ မှ ၁၀/၇ ထိ )<br>- လက်ပံလှ- စဥ့်ကူးလမ်းအပိုင်း<br>(မိုင် ၀/၀ မှ ၅/၄ ထိ)<br>စုစုပေါင်း | <br><br>- ၃၁ မိုင် ၁ ဖာလုံ<br><br>- ၁၀ မိုင် ၇ ဖာလုံ<br><br>- ၅ မိုင် ၄ ဖာလုံ<br><br>၄၇ မိုင် ၄ ဖာလုံ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု<br>- ငွေပမာဏ<br>- စက်ပစ္စည်းကိရိယာများ<br>- အဆောက်အဦများ<br>- ပရိဘောဂ နှင့် လုပ်ငန်း သုံး ပစ္စည်းများ | - ကျပ် ၃၄၀၀.၀၀ သန်း (US$ ၄.၇၈ သန်းအပါအဝင်)<br>၂၈၆၆.၃၄<br>၂၈.၆၆ (US$ ၄.၇၈ သန်း)<br>၅၀၀.၀၀<br>၅.၀၀ |
| ၆။ | လမ်းတံတား အသုံးပြုခ ကောက်ခံမည့် ဂိတ်တည်နေရာ | - အသွား/အပြန်ခရီးအတွက်<br>လက်ပံလှဂိတ် (၁)ဂိတ်<br>ဖော့တောဂိတ် (၁)ဂိတ် |
| ၇။ | ဝင်ငွေ<br>(တည်ဆောက်ရေး ကာလပြီး လုပ်ငန်းသက်တမ်း(၇)နှစ်မြောက် ဝင်ငွေအား ကောက်နုတ် တင်ပြထားခြင်း ဖြစ်ပါသည်။) | - ကျပ် ၁၈၈.၀၄ သန်း |



Max Cab

| | | |
|---|---|---|
| ၈။ | အသားတင်အမြတ်<br>(၇နှစ်ပြောက်) | - ကျပ် ၂၂.၄၄ သန်း |
| ၉။ | အရင်းကြေကာလ | - (၃၀) နှစ် နှင့် (၄)လ |
| ၁၀။ | အရင်းအနှီးအပေါ်အကျိုး<br>အမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁.၅၁ % |
| ၁၁။ | နိုင်ငံတော်မှရရှိမည့်အကျိုး<br>အမြတ်<br>- ဝင်ငွေခွန်<br>- လမ်းတံတားဖြတ်သန်းခ ရငွေ | <br><br>ကျပ် ၉.၆၂ သန်း<br>ကျပ် ၉.၄၀ သန်း |
| ၁၂။ | လုပ်သားအင်အား (ပြည်တွင်း) | တည်ဆောက်ရေးကာလ ၂၇၀ ဦး<br>လုပ်ငန်းဆောင်ရွက်မှုကာလ ၂၃ ဦး |
| ၁၃။ | စက်ပစ္စည်း ဝယ်ယူမှုနှင့် ငွေကြေး<br>အထောက်အထား | - လုပ်ငန်းအတွက်လိုအပ်သော စက်ပစ္စည်းများကို ပြည်ပမှ တင်သွင်းရာတွင် နိုင်ငံခြားငွေလိုအပ်ချက်ကို ညီနောင်ကုမ္ပဏီများ၏ စာရင်းမှ Account Transfer ဖြင့် ရယူဆောင်ရွက်မည် ဖြစ်ပါ သည်။<br>- ကျပ်ငွေ အထောက်အထား အဖြစ် ဒါရိုက်တာ ဖြစ်သူ ဒေါ်ခိုင်သက်မွန် အမည်ဖြင့် CB Bank ရှိ (၇-၁-၂၀၁၀) နေ့ငွေလက်ကျန် ကျပ် (၁၁၃.၉၀) သန်းကို တင်ပြထားပါ သည်။ |
| ၁၄။ | ကတိဝန်ခံချက်များ | - နိုင်ငံတော် အစိုးရမှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက် များကို လိုက်နာ ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြု ထားပါသည်။ |

နောက်ဆက်တွဲ(စ)

**မုံရွာ-ရေဦးလမ်းအပိုင်း (ဆုထူးပန် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်) အား B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်နှင့် စပ်လျဉ်းသည့် အဓိကအချက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - ဆုထူးပန် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်<br>ကုမ္ပဏီ မှတ်ပုံတင် အမှတ်၊ ၁၀၅၇/၂၀၀၈-၂၀၀၉<br>(၁၉-၁၁-၂၀၀၈) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးကျော်ဌေး (အုပ်ချုပ်မှုဒါရိုက်တာ) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - မုံရွာ - ရေဦး လမ်း အပိုင်း အား B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ။ |
| ၄။ | လုပ်ငန်းတည်နေရာ<br>(လမ်းအရှည်မိုင်) | - မုံရွာ-ရေဦး လမ်းအပိုင်း မိုင်တိုင် ၈၄/၁ မှ ၁၃၈/၁ အထိ<br>(၅၄ မိုင် ) |
| | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၇၄၉၉.၈၀ သန်း (US$ ၄.၅၆ သန်းအပါအဝင်) |
| | - ငွေပမာဏ | ၆၉၆၄.၉၆ |
| | - စက်ပစ္စည်းကိရိယာများ | ၂၇.၃၄ (US$ ၄.၅၆ သန်း) |
| | - အဆောက်အဦများ | ၅၀၀.၀၀ |
| | - ပရိဘောဂ နှင့် လုပ်ငန်း သုံး ပစ္စည်းများ | ၇.၅၀ |
| ၆။ | လမ်းတံတား အသုံးပြုခ ကောက်ခံမည့် ဂိတ်တည်နေရာ | - အသွား/အပြန်ခရီးအတွက်<br>အလုံ (၁)ဂိတ်<br>ရေဦး (၁)ဂိတ် |
| ၇။ | ဝင်ငွေ<br>(တည်ဆောက်ရေး ကာလပြီး လုပ်ငန်းသက်တမ်း(၇)နှစ်မြောက် ဝင်ငွေအား ကောက်နုတ် တင်ပြထားခြင်း ဖြစ်ပါသည်။) | - ကျပ် ၃၇၀.၂၅ သန်း |
| ၈။ | အသားတင်အမြတ်<br>(၇နှစ်မြောက်) | - ကျပ် ၇၀.၇၂ သန်း |
| ၉။ | အရင်းကြေကာလ | - (၂၇) နှစ် နှင့် (၁၀)လ |
| ၁၀။ | အရင်းအနှီးအပေါ်အကျိုး အမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁.၉၆ % |

| | | |
|---|---|---|
| ၁၁။ | နိုင်ငံတော်မှရရှိမည့်အကျိုး အမြတ်<br>- ဝင်ငွေခွန်<br>- လမ်းတံတားဖြတ်သန်းခ ရငွေ | <br><br>- ကျပ် ၃၀.၃၁ သန်း<br>- ကျပ် ၁၈.၅၁ သန်း |
| ၁၂။ | လုပ်သားအင်အား (ပြည်တွင်း) | - တည်ဆောက်ရေးကာလ ၃၀၅ ဦး<br>- လုပ်ငန်းဆောင်ရွက်မှုကာလ ၂၄ ဦး |
| ၁၃။ | စက်ပစ္စည်း ဝယ်ယူမှုနှင့် ငွေကြေး အထောက်အထား | - လုပ်ငန်းအတွက်လိုအပ်သော စက်ပစ္စည်းများကို ပြည်ပမှ တင်သွင်းရာတွင် နိုင်ငံခြားငွေလိုအပ်ချက်ကို ညီနောင်ကုမ္ပဏီများ၏ စာရင်းမှ Account Transfer ဖြင့် ရယူဆောင်ရွက်မည် ဖြစ်ပါ သည်။<br>- ကျပ်ငွေ အထောက်အထားအဖြစ် ဒါရိုက်တာ ဖြစ်သူ ဒေါ်ခိုင်သက်မွန် အမည်ဖြင့် CB Bank ရှိ (၇-၁-၂၀၁၀) နေ့ငွေလက်ကျန် ကျပ် (၁၁၃.၉၀) သန်းကို တင်ပြထားပါ သည်။ |
| ၁၄။ | ကတိဝန်ခံချက်များ | - နိုင်ငံတော် အစိုးရမှ သတ်မှတ် ပြဌာန်းမည့် စည်းကမ်း သတ်မှတ်ချက် များကို လိုက်နာ ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြု ထားပါသည်။ |

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊နေပြည်တော်

Fax -95-67-406333 တယ်လီဖုန်း-၀၆၇-၄၀၆၁၆၀၊ ၄၀၆၀၇၅

စာအမှတ်၊ ရက- ၆(က)/ မ- ၁၀၇၀ / ၂၀၁၀ (၉၂၈၄)
ရက်စွဲ ၊ ၂၀၁၀ ခုနှစ် ၊ ဇူလိုင် လ ၈ ရက် ။

သို့

ဝန်ကြီးရုံး၊

ဆောက်လုပ်ရေး ဝန်ကြီးဌာန။

အကြောင်းအရာ။ ။ မက်စ် (မြန်မာ) ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (Max (Myanmar) Construction Co., Ltd.) မှ ရန်ကုန်တိုင်းရှိ အမှတ်(၂) လမ်းမကြီး၊ အမှတ်(၃) လမ်းမကြီး၊ အမှတ်(၇) မြို့ပတ်လမ်းမကြီးနှင့် ထောက်ကြံ့ မြို့ရှောင် လမ်းတို့ကို B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ။

ရည် ညွှန်း ချက် ။ ။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ဝန်ကြီးရုံး၏ (၂-၆-၂၀၁၀) ရက်စွဲပါစာအမှတ်၊ ၁/ ခွဲ - ၂/ ထွေ/ ၂၀၁၀ (ကုမ္ပဏီ) (စီ ၄၀၃၂)၊

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ဝန်ကြီးရုံး မှ ရည်ညွှန်းချက်ပါစာဖြင့် တင်ပြခြင်းကို (၂၃-၆-၂၀၁၀) နေ့တွင် ကျင်းပသော ကုန်သွယ်မှုမူဝါဒ ကောင်စီ၏ (၁၉/ ၂၀၁၀) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။

၂။ ယင်းအစည်းအဝေးမှ "မက်စ် (မြန်မာ)ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (Max (Myanmar) Construction Co., Ltd.) မှ ရန်ကုန်တိုင်းရှိ အမှတ်(၂) လမ်းမကြီး၊ အမှတ်(၃) လမ်းမကြီး၊ အမှတ် (၇) မြို့ပတ်လမ်းမကြီးနှင့် ထောက်ကြံ့ မြို့ရှောင်လမ်းတို့ ကို B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုကြောင်း " ဆုံးဖြတ်ကြပါသည်။

၃။ အထက်ပါ အစည်းအဝေး ဆုံးဖြတ်ချက်အား သိရှိနိုင်ပါရန်နှင့် အစိုးရအဖွဲ့ အစည်းအဝေးသို့ ဆက်လက်တင်ပြနိုင်ရန်အတွက် အဆိုပြုချက် (၁၅)စုံကို Adobe Acrobat Reader (Pdf) File ဖြင့် ထည့်သွင်းထားသော CD Copy နှင့်အတူ ဤကော်မရှင်သို့ ပေးပို့ပါရန် အကြောင်းကြားအပ် ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(သူရိန်ဇော်၊ အတွင်းရေးမှူး)

မိတ္တူ -
(၁) ဦးဆောင်ညွှန်ကြားရေးမှူး၊
ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း။
(၂) မက်စ် (မြန်မာ)ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်။
(၃) ရုံးလက်ခံ/ မျှောစာတွဲ။

လျှို့ဝှက်



# ပြည်ထောင်စုမြန်မာနိုင်ငံတော်
# ကုန်သွယ်မှုမူဝါဒကောင်စီ

၂၀၁၀ ခုနှစ်၊ ဇွန်လ(၂၃)ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒ ကောင်စီ အစည်းအဝေးအမှတ်စဉ် (၁၉/၂၀၁၀) မှတ်တမ်းကောက်နုတ်ချက်။

| အစည်းအဝေး အစီအစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၁၆-ခ | ၇၉၄ | မက်စ်(မြန်မာ) ဆောက်လုပ်ရေးကုမ္ပဏီလီမိတက် (Max (Myanmar) Construction Co., Ltd.) မှ ရန်ကုန်တိုင်းရှိ အမှတ်(၂)လမ်းမကြီး၊ အမှတ်(၃)လမ်းမကြီး၊ အမှတ်(၇) မြို့ပတ်လမ်းမကြီးနှင့် ထောက်ကြံ့မြို့ရှောင်လမ်းတို့ ကို B.O.T စနစ်ဖြင့်ပြုပြင်ဖောက်လုပ်၍ လမ်းအသုံးပြုခကောက်ခံခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုကြောင်း ဆုံးဖြတ်ပါသည်။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်။<br>ဆောက်လုပ်ရေး ဝန်ကြီးဌာန။ |






WWM /TTN 24-6-2010

# ပြည်ထောင်စုမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၆(ခ)/မ- လမ်း/ ၂၀၁၀(၈၆၆၉)

ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ ဇွန် လ ၁၇ ရက်။

**ကုန်သွယ်မှုမူဝါဒကောင်စီသို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ ။ မက်စ် (မြန်မာ)ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (Max (Myanmar) Construction Co., Ltd.) မှ ရန်ကုန်တိုင်းရှိ အမှတ်(၂) လမ်းမကြီး၊ အမှတ်(၃)လမ်းမကြီး၊အမှတ်(၇)မြို့ပတ်လမ်းမကြီးနှင့် ထောက်ကြံ့မြို့ရှောင်လမ်းတို့ကို B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းအသုံးပြုခကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော မက်စ်(မြန်မာ) ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (Max (Myanmar) Construction Co., Ltd.)မှ အောက်ပါ လမ်းအပိုင်း (၄)ပိုင်း ကို B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဇော်ဇော် (အဘ- ဦးယူစိန်) မှ ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြု တင်ပြလာခြင်း ဖြစ်ပါသည်။

| | | |
|---|---|---|
| (က) | အမှတ် (၂) လမ်းမကြီး | ၁၄ မိုင် ၆ ဖာလုံ (မိုင်တိုင် ၁၆/ ၂ မှ ၃၁/ ၀ ထိ) |
| (ခ) | အမှတ်(၃) လမ်းမကြီး | ၉ မိုင် ၂ ဖာလုံ (မိုင်တိုင် ၂/၇ အနီး ၀/၀ မှ ခရေပင်လမ်းဆုံ ၉/ ၂ ထိ) |
| (ဂ) | အမှတ်(၇) မြို့ပတ်လမ်းမကြီး | ၁၂ မိုင် - (မိုင်တိုင် ၀/၀ မှ ၁၂/၀ ထိ) |
| (ဃ) | ထောက်ကြံ့မြို့ရှောင်လမ်း | ၁ မိုင် ၅½ ဖာလုံ |
| | စုစုပေါင်း | ၃၇ မိုင် ၅½ ဖာလုံ |

[လမ်းအပိုင်းတစ်ခုတွင် ဂိတ်စခန်း (၁)ခု နှုန်းဖြင့် လမ်းအပိုင်း(၄)ခုတွင် ဂိတ် (၄)ခု ထား၍ ကောက်ခံသွားမည် ဖြစ်ပါသည်။ ဂိတ်တည်နေရာပြပုံအား ပူးတွဲ တင်ပြထားပါသည်။ ]

၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်အား (၂၁-၅-၂၀၁၀) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၇/ ၂၀၁၀) အစည်းအဝေးသို့ တင်ပြခဲ့ရာ ကုန်သွယ်မှုမူဝါဒကောင်စီ သို့ တင်ပြလမ်းညွှန်မှုခံယူရန် ဆုံးဖြတ်ချက်အရ ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တင်ပြလာသဖြင့် ဆက်လက်တင်ပြခြင်း ဖြစ်ပါသည်။

၃။ လုပ်ငန်းအဆိုပြုချက်အား နောက်ဆက်တွဲ (က) ဖြင့် တင်ပြအပ်ပါသည်။ အဆိုပြုချက်နှင့် အတူ B.O.T စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင်မည့် ပဋိညာဥ်စာချုပ် (မူကြမ်း) နှင့် ရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်တို့ကို တင်ပြအပ်ပါသည်။

၄။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏ မှာ အမေရိကန်ဒေါ်လာ (၄.၇၇) သန်း အပါအဝင် စုစုပေါင်း ကျပ် (၉၁၇၅.၀၀) သန်း ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ (၄.၇၇) သန်း တန်ဖိုးရှိ လုပ်ငန်းသုံး စက်ယန္တရား (၃၄) ယူနစ်၊ ယာဥ်ယန္တရား (၆၄)ယူနစ်နှင့် Toll Gate တွင် အသုံးပြုရန် စက်ပစ္စည်းများကို ပြည်ပမှ တင်သွင်းမည်ဖြစ်ပါသည်။ နိုင်ငံခြားငွေလိုအပ်ချက်ကို ညီနောင်ကုမ္ပဏီ ဖြစ်သော မက်(စ်)မြန်မာ ကုမ္ပဏီလီမိတက်ထံမှ ရယူသုံးစွဲမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

| | | | |
|---|---|---|---|
| <u>စုစုပေါင်းရင်းနှီးမြှုပ်နှံမှု</u> | | <u>ကျပ်၉၁၇၅.၀၀သန်း</u> (US$ ၄.၇၇ သန်း အပါအဝင်) | |
| (က) | ငွေပမာဏ (လမ်းဟောင်း ပြုပြင်ခြင်းနှင့် အဆင့်တိုးမြှင့်ဖောက်လုပ်ခြင်း) | ၉၀၆၆.၄၁ | |
| (ခ) | လုပ်ငန်းသုံး စက်/ယာဥ်/ ယန္တရားများ | ၂၈.၅၉ | (US$ ၄.၇၇ သန်း) |
| (ဂ) | အဆောက်အဦများ | ၇၅.၀၀ | |
| (ဃ) | ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများ | ၅.၀၀ | |

၅။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းနှင့် ကုမ္ပဏီတို့ ချုပ်ဆို မည့် ပဋိညာဥ်စာချုပ် (မူကြမ်း) များပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (တည်ဆောက်ရေးကာလ)မှာ (၃) နှစ် ဖြစ်ပါသည်။

(ခ) လုပ်ငန်း သက်တမ်း ကာလမှာ နှစ်(၄၀) ဖြစ်ပြီး လမ်း ဖောက်လုပ်သည့် လုပ်ငန်း ကာလ (၃)နှစ် အထိ ဆောင်ရွက် ပြီးစီးသည့်နေ့ (သို့မဟုတ်) လုပ်ငန်း အပြီးသတ်

ဆောင်ရွက် ပြီးစီးမှု လက်မှတ် ထုတ်ပေးသည့်နေ့ ထိုနှစ်ရပ် အနက် စောရာ နေ့ ရက် ကာလ မှ စတင် သတ်မှတ်မည် ဖြစ်ပါသည်။

(ဂ) အဆိုပြုကုမ္ပဏီများမှ အောက်ပါလမ်းအသုံးပြုခနှုန်းများ အတိုင်း ကောက်ခံမည် ဖြစ်ပါသည်။

| စဉ် | ယာဉ်အမျိုးအစား | လမ်းအသုံးပြုခနှုန်း တစ်မိုင်နှုန်း |
|---|---|---|
| ၁။ | (၁)တန်အောက်ယာဉ်ငယ်များ | ၄ ကျပ် ၁၃ ပြား |
| ၂။ | (၁)တန်မှ(၃)တန်အထိယာဉ်များ | ၁၂ ကျပ် ၃၉ ပြား |
| ၃။ | (၅) တန်အောက်ကားကြီးများ | ၂၀ ကျပ် ၆၅ ပြား |
| ၄။ | (၁၀)တန်အောက်ကုန်တင်ယာဉ်ကြီး များ | ၄၁ ကျပ် ၃၀ ပြား |
| ၅။ | (၂၀)တန်အထိကုန်တင်ယာဉ်ကြီး များ | ၈၂ ကျပ် ၅၉ ပြား |
| ၆။ | (၂၀)တန်အထက်တန်ပို(၁)တန် လျှင် | ၈ ကျပ် ၂၆ ပြား |

(ဃ) လမ်း၊တံတားအသုံးပြုခရငွေအပေါ် ခွင့်ပြုကာလအပိုင်းအခြားအလိုက် အောက်ပါ သတ်မှတ်ထားသည့် ရာခိုင်နှုန်းများ အတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည် ဖြစ်ပါ သည်။

(၁) ပထမ (၃)နှစ် အတွက် ------ကင်းလွတ်ခွင့်ကာလ

(၂) (၄) နှစ်မြောက်မှ (၁၃)နှစ်မြောက်အထိ (၁၀)နှစ် ------၅% ပေးသွင်းရန်

(၃) (၁၄) နှစ်မြောက်မှ (၂၃)နှစ်မြောက်အထိ(၁၀)နှစ် ------၁၀% ပေးသွင်းရန်

(၄) (၂၄) နှစ်မြောက်မှ (၃၃)နှစ်မြောက်အထိ (၁၀)နှစ် ------၁၅% ပေးသွင်းရန်

(၅) (၃၄) နှစ်မြောက်မှ (၄၀)နှစ်မြောက်အထိ (၇)နှစ် ------၂၀%ပေးသွင်းရန်

(င) လုပ်ငန်း လုပ်ကိုင်ခွင့်ရသူသည် ဘဏ်အာမခံကြေးငွေ အဖြစ် စာချုပ် ချုပ်ဆိုပြီး (၃၀)ရက် အတွင်း ရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ်၏ (၁)ရာခိုင်နှုန်းနှင့် ညီမျှသော ငွေကိုထားရှိပေးရမည်။ ယင်းသက်တမ်းသည် စတင်ထုတ်ပေးသည့်နေ့မှ လုပ်ငန်း ပြီးဆုံးအောင် ဆောင်ရွက်သည် အထိ ဖြစ်သည်။ လုပ်ငန်း လုပ်ကိုင်ခွင့်ရသူသည် လုပ်ငန်းစတင်ရန် အကြောင်းကြားစာရပြီး ရက် (၃၀) အတွင်း လုပ်ငန်းစတင်ရန် ပျက်ကွက်လျှင် သော်လည်းကောင်း၊ သတ်မှတ်ကာလအတွင်း လုပ်ငန်းကို ပြီးစီး အောင်ဆောင်ရွက်ရန် အပါအဝင် စာချုပ်ပါ စည်းကမ်းချက်များကို လိုက်နာရန်

ပျက်ကွက်ပါက ဘဏ်အာမခံငွေကို ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ သိမ်းယူရမည်ဖြစ်သည်။ ဘဏ်အာမခံငွေကို လုပ်ငန်း အပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ် ထုတ်ပေးပြီး ရက်ပေါင်း (၃၀) အတွင်း လုပ်ငန်း လုပ်ကိုင်ခွင့်ရသူသို့ ပြန်လည် ထုတ်ပေးရမည်။

(စ) အဆိုပြုကုမ္ပဏီသည် လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်ခံလုပ်ကိုင်ခွင့် မပြုရပါ။

(ဆ) လုပ်ငန်းစတင်သည့်နေ့သည် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ (ဌာန) မှ လုပ်ငန်း စတင်ရန် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ (ကုမ္ပဏီ) သို့ အကြောင်းကြားသည့်နေ့ ဖြစ်သည်။

(ဇ) လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသည့် ကာလနှစ်(၄၀)သို့မဟုတ်နောက်ထပ်တိုးမြှင့် ကာလများ ပြီးဆုံးပါက အဆိုပါလမ်းနှင့် တံတားများ၊ ဂိတ်များနှင့် အဆောက်အဦများကို ဆောက်လုပ်ပြီးစီးချိန်ကရှိနေသော ကောင်းမွန်သည့်အနေအထားအတိုင်း ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းသို့ အဖိုးစားနားတစ်စုံတစ်ရာမရှိဘဲ လွှဲပြောင်းပေးရမည် ဖြစ်ပါသည်။

၆။ လုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် (၇)နှစ်မြောက်တွင် ရရှိမည့် လမ်း၊ အသုံးပြုခ ကောက်ခံရရှိ မည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| | (ကျပ်သန်း) |
|---|---|
| (က) ဝင်ငွေ | ၉၈၉.၃၆ |
| (ခ) အသုံးစရိတ် | ၆၄၀.၃၀ |
| (ဂ) အသားတင်အမြတ် | ၃၄၉.၀၆ |

၇။ လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် (၇)နှစ်မြောက်တွင် ဝင်ငွေခွန် ကျပ်(၁၄၉.၆၀) သန်း နှင့် လမ်း ဖြတ်သန်းခ အတွက် ကျပ် (၄၉.၄၇) သန်း ရရှိသဖြင့် စုစုပေါင်းကျပ် (၁၉၉.၀၇)သန်း နိုင်ငံတော်မှ ရရှိမည် ဖြစ်ပါသည်။ လုပ်ငန်း ၏ အရင်းကြေကာလမှာ (၂၆)နှစ်နှင့် (၆)လ ဖြစ်ပြီး အရင်းအနှီး အပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၁.၅၆) ရာခိုင်နှုန်း ဖြစ်ပါသည်။ ပြည်တွင်းမှ လုပ်သား (၇၅)ဦး ခန့်ထားမည် ဖြစ်ပါသည်။

၈။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကိုလည်းကောင်း၊ ဥပဒေပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို လည်းကောင်း ခံစားခွင့်ပြုရပါမည်။

ဆုံးဖြတ်ရန်အချက်

၉။ မက်စ် (မြန်မာ)ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (Max (Myanmar) Construction Co., Ltd.) မှ ရန်ကုန်တိုင်းရှိ အမှတ်(၂) လမ်းမကြီး၊ အမှတ်(၃) လမ်းမကြီး၊ အမှတ် (၇) မြို့ပတ်လမ်းမကြီးနှင့် ထောက်ကြံ့ မြို့ရှောင်လမ်းတို့ ကို B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း အား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ - မတူ။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ထောက်ခံချက်

၁၀။ ကုန်သွယ်မှုမူဝါဒကောင်စီ၏ ဆုံးဖြတ်ချက်ကိုနာခံပါမည်။

(မောင်မောင်သိမ်း)
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ဝန်ကြီး၊ မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန။

ကုန်သွယ်မှုမူဝါဒကောင်စီ

ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များအမည် | ဒါရိုက်တာ/အစုရှင်များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| ၁။ | မက်စ်(မြန်မာ) ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (Max (Myanmar) Construction Co., Ltd.) | ၁။ ဦးဖိုးဇော် (ခ) ဦးဇော်ဇော် (အုပ်ချုပ်မှုဒါရိုက်တာ) | အမှတ်(၉)၊ အင်းယားရိပ်သာလမ်း၊ (၁၀) ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်။ |
| | | ၂။ ဦးစိုးတင့် (ဒါရိုက်တာ) | အမှတ် ၁၄/ ၁၅၊ သီရိမင်္ဂလာ (၂) လမ်း၊ (၈)ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ရန်ကုန်။ |
| | | ၃။ ဦးအုန်းကျော် (ခ) ဦးအေးသွင် (ဒါရိုက်တာ) | အမှတ် ၁၁/ ၁၂၊ သီရိမင်္ဂလာ (၂) လမ်း၊ (၈)ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ရန်ကုန်။ |

၁။ ကုမ္ပဏီတယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၁- ၅၀၀၁၂၃ ၊ ၅၁၃၀၀၉၊ ၅၀၁၆၇၇
Fax - ၀၁- ၅၂၄၀၀၆ ၊ ၅၂၇၇၉၇

၂။ ကုမ္ပဏီ၏လိပ်စာအပြည့်အစုံ - အမှတ် (၁)၊ ရွာမကွေ့၊ ဘုရင့်နောင်လမ်း၊ အမှတ်(၂) ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။

၃။ ကုမ္ပဏီ၏ဆက်သွယ်ရမည့်ပုဂ္ဂိုလ်၏အမည်၊ ရာထူး - ဦးဖိုးဇော် (ခ) ဦးဇော်ဇော် (အုပ်ချုပ်မှုဒါရိုက်တာ)

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - ဆောက်လုပ်ရေးလုပ်ငန်း။

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်နှင့်နေ့စွဲ - ၆၅၈ / ၂၀၀၅-၂၀၀၆(၁၁-၈-၂၀၀၅)

၆။ ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံးသည့်နေ့စွဲ - ၁၀-၈-၂၀၁၁

၇။ ဘဏ်အမည် နှင့် ငွေစာရင်းအမှတ် - IEA - 0400617



**ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ**
**ဆောက်လုပ်ရေးဝန်ကြီးဌာန**
**ဝန်ကြီးရုံး**
**နေပြည်တော်**

စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၁၀(ကုမ္ပဏီ)(စီ ၄၀၃၂)
ရက် စွဲ၊ ၂၀၁၀ ခုနှစ် ဇွန်လ ၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **မက်စ်မြန်မာဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှ ဆောင်ရွက်နေသော ရန်ကုန်တိုင်း အမှတ်(၂)လမ်းမကြီး ၊ အမှတ်(၃)လမ်းမကြီး ၊ အမှတ်(၇) မြို့ပတ်လမ်းမကြီးနှင့် ထောက်ကြံ့မြို့ရှောင် လမ်းတို့၏ အဆိုပြုလွှာအား ကုန်သွယ်မှုမူဝါဒ ကောင်စီ အစည်းအဝေးသို့ တင်ပြပေးနိုင်ပါရန် တင်ပြခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၀ ခုနှစ် ဇွန်လ (၁)ရက် နေ့စွဲပါ စာအမှတ်၊ ရက-၆(က) / မ- ၁၀၇၀/၂၀၁၀ (၇၈၅၈)

၁။ မက်စ်မြန်မာ ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်မှ ဆောင်ရွက်နေသော ရန်ကုန်တိုင်း အမှတ်(၂)လမ်းမကြီး၊ အမှတ်(၃)လမ်းမကြီး၊ အမှတ်(၇)မြို့ပတ်လမ်းမကြီးနှင့် ထောက်ကြံ့မြို့ရှောင် လမ်းတို့၏ အဆိုပြုလွှာနှင့် ငွေကြေးလည်ပတ်မှု အခြေအနေအား တင်ပြခဲ့ခြင်းအပေါ် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အစည်းအဝေး အမှတ်စဉ် (၁၇/၂၀၁၀)မှ B.O.T စနစ်ဖြင့် လမ်းအသုံး ပြုခများ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် အဆိုပြုလွှာအား ကော်မရှင်၏ ဆုံးဖြတ်ချက် အတိုင်း ပြင်ဆင်ဆောင်ရွက်ပြီးပါက ကုန်သွယ်မှုမူဝါဒကောင်စီသို့ တင်ပြလမ်းညွှန်မှု ခံယူရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည် ။

၂။ သို့ဖြစ်ပါ၍အဆိုပါလမ်းပိုင်း၏အဆိုပြုလွှာအား ကုန်သွယ်မှုမူဝါဒကောင်စီအစည်းအဝေး သို့ တင်ပြအတည်ပြုချက် ရယူပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ လမ်းညွှန်ချက် နှင့်အညီ ပြုစုထားသော အဆိုပြုလွှာ (၂၅) စုံနှင့် Adobe Acrobat Reader (Pdf) File ဖြင့် ထည့်သွင်း ထားသော CD Copy (၁)ချပ်တို့အား ပူးတွဲပေးပို့ တင်ပြအစီရင်ခံ အပ်ပါသည် ။

ဝန်ကြီး(ကိုယ်စား)
ကျော်ဝင်း၊ ရုံးအဖွဲ့မှူး

D / K-2 /HO* P.g 188 (R)

ပြည်ထောင်စုမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရုံးအမှတ်(၃၂)၊ နေပြည်တော်

FAX: 95-67-406333 တယ်လီဖုန်း-၀၆၇-၄၀၆၀၇၅၊ ၄၀၆၁၆၁။

စာအမှတ်၊ရက-၆(က)/မ- ၁၀၇၀ /၂၀၁၀( ၇၈၅၈ )၊
ရက်စွဲ ၊ ၂၀၁၀ ခုနှစ် ၊ ဇွန် လ ၁ ရက်။

သို့

ဝန်ကြီးရုံး
ဆောက်လုပ်ရေးဝန်ကြီးဌာန

အကြောင်းအရာ ။ ။ မက်စ် (မြန်မာ)ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (Max (Myanmar) Construction Co., Ltd. ) မှ ရန်ကုန်တိုင်း အမှတ်(၂) လမ်းမကြီး၊ အမှတ်(၃) လမ်းမကြီး ၊ အမှတ်(၇) မြို့ပတ် လမ်းမကြီး နှင့် ထောက်ကြံ့ မြို့ရှောင် လမ်း တို့ကို B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ရန် ဆောက်လုပ်ရေး ဝန်ကြီးဌာန မှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ။

ရည်ညွှန်းချက် ။ ။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ (၃၀-၃-၂၀၁၀) ရက်စွဲပါ စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၁၀(ကုမ္ပဏီ)(စီ ၂၄၂၃)။

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဉ်း၍ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ဝန်ကြီးရုံး မှ ရည်ညွှန်းချက်ပါ စာဖြင့် တင်ပြခြင်းကို ( ၂၁-၅-၂၀၁၀ ) နေ့တွင် ကျင်းပသော ဤကော်မရှင် ၏ (၁၇/ ၂၀၁၀) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။

၂။ ယင်းအစည်းအဝေးမှ "မက်စ်(မြန်မာ)ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်း ရှိ အမှတ်(၂)လမ်းမကြီး (၁၄ မိုင် ၊ ၆ ဖာလုံ ) ၊ အမှတ်(၃) လမ်းမကြီး (၉ မိုင် ၊ ၂ ဖာလုံ) ၊ အမှတ်(၇) မြို့ပတ် လမ်းမကြီး (၁၂)မိုင် နှင့် ထောက်ကြံ့ မြို့ရှောင်လမ်း (၁ မိုင် ၊ ၅½ ဖာလုံ )၊ စုစုပေါင်း (၃၇ မိုင် ၊ ၅½ )ဖာလုံ ကို B.O.T စနစ် ဖြင့် ပြုပြင် ဖောက်လုပ်၍ဂိတ်(၄)ခုဖြင့် လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်အား ကုန်သွယ်မှုမူဝါဒကောင်စီသို့ တင်ပြလမ်းညွှန်မှုခံယူရန် " ဆုံးဖြတ် ပါသည်။

